

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် ၂၃၆/၂၀၂၀      ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ 24 ရက်

မြန်မာနိုင်ငံနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ဥပဒေပုဒ်မ ၂၅ ပုဒ်မခွဲ (ဂ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) ရင်းနှီးမြှုပ်နှံသူ/ ကမကထပြုသူအမည် ဦးနိုင်ထွန်း

(၂) နိုင်ငံသား မြန်မာ

(၃) နေရပ်လိပ်စာ အမှတ်-၃၊ ရတနာမွန်(၇)လမ်း၊ (၃)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(၄) ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ မရှိ

(၅) ဖွဲ့စည်းရာအရပ် မြန်မာ

(၆) ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့်ရောင်းချပြီးနောက်ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း

(၇) ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ) မြေကွက်အမှတ်- ၉/ခ၊၁၀/က၊၁၀/ခ၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၃၈/က၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(၈) နိုင်ငံခြားမတည်ငွေရင်းပမာဏ မရှိ

(၉) နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ မရှိ

(၁၀) စုစုပေါင်း မတည်ငွေရင်းပမာဏ(ကျပ်) ကျပ် ၃၃၁၅.၈၈၅ သန်း (အမေရိကန်ဒေါ်လာ ၀.၂၀၃ သန်း အပါအဝင် စုစုပေါင်း ကျပ် သုံးထောင်သုံးရာတစ်ဆယ့်ငါးသန်းနှင့် ရှစ်သိန်းရှစ်သောင်းငါးထောင်ခန့်)

(၁၁) တည်ဆောက်မှုကာလ ၁ နှစ်

(၁၂) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း ၃၀ နှစ်

(၁၃) ရင်းနှီးမြှုပ်နှံမှုပုံစံ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည် MYANMAR SWM MOTOR COMPANY LIMITED

Thaung Tun

(သောင်းထွန်း)

ဥက္ကဋ္ဌ

၆



Form (3)

P000192

# THE REPUBLIC OF THE UNION OF MYANMAR

## Myanmar Investment Commission

## PERMIT

Permit No. 236/2020 Dated 24 February 2020

This Permit is issued by the Myanmar Investment Commission according to the section 25, sub-section (c) of the Myanmar Investment Law-

(1) Name of Investor U NAING HTUN

(2) Citizenship MYANMAR

(3) Residence Address NO.3, YADARNAR MON 7th STREET, 3 WARD, HLAING TOWNSHIP,YANGON

(4) Name and Address of Principle Organization NIL

(5) Place of Incorporation MYANMAR

(6) Type of Business ASSEMBLING, MANUFACTURING, SALES OF MOTOR VEHICLES AND AFTERSALES SERVICE

(7) Place(s) at which investment is permitted PLOT NO.9/B, 10/A, 10/B, MYAY TAING BLOCK NO- 538/A, SHWE PYI THAR TOWNSHIP, YANGON REGION

(8) Amount of Foreign Capital NIL

(9) Period for Foreign Capital to be brought in NIL

(10) Total amount of capital (Kyat) KYAT 3315.885 MILLION (INCLUDING US$ 0.203 MILLION)

(11) Construction Period 1 YEAR

(12) Validity of investment permit 30 YEARS

(13) Form of investment WHOLLY MYANMAR OWNED

(14) Name of Company incorporated in Myanmar MYANMAR SWM MOTOR COMPANY LIMITED

Thaung Tun

(Thaung Tun)
Chairman



ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊မရက- ၃/ ခ-၀၆၃/၂၀၂၀( ၀၆၂-၁ )
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၂၄ ရက်

အကြောင်းအရာ။ **Myanmar SWM Motor Company Limited ၏ မော်တော်ယာဉ် အမျိုးမျိုးတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ရောင်းချပြီးနောက် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်း အဆိုပြုချက်အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ **Myanmar SWM Motor Company Limited ၏ ၂-၁-၂၀၂၀ ရက်စွဲပါစာ**

၁။ Myanmar SWM Motor Company Limited မှ မြေကွက်အမှတ်- ၉/ခ၊ ၁၀/က၊ ၁၀/ခ၊ မြေတိုင်းရပ်ကွက်အမှတ်- ၅၃၈/က၊ ရွှေပြည်သာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁.၆၅၁ဧက(၆၆၈၁.၃၆၈စတုရန်းမီတာ)တွင် မော်တော်ယာဉ်အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့် ရောင်းချပြီးနောက်ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအား ၂၀၂၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၁၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃/၂၀၂၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် Myanmar SWM Motor Company Limited အား မော်တော်ယာဉ် အမျိုးမျိုး တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းနှင့်ရောင်းချပြီးနောက် ပြုပြင်ထိန်းသိမ်းခြင်းလုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊၂၃၆/၂၀၂၀ ကိုထုတ်ပေးလိုက်သည်။

၂။ Myanmar SWM Motor Company Limited အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Myanmar SWM Motor Company Limited အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့်အချက်များနှင့်အညီခံစားခွင့်ပြုနိုင်ရန်လျှောက်ထားနိုင်သည်။

(ခ) Myanmar SWM Motor Company Limited သည် ဤခွင့်ပြုမိန့်အရ **ထုတ်လုပ်မှုရည်မှန်းချက်များကိုအကောင်းဆုံး** အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

ကန့်သတ်

၆

(ဂ) Myanmar SWM Motor Company Limited အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေအခန်း (၂၀) တို့တွင်ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Myanmar SWM Motor Company Limited သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) Myanmar SWM Motor Company Limited သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလအတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦး သို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(စ) Myanmar SWM Motor Company Limited သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များပါရှိသည့်နှစ်စဉ်အစီရင်ခံစာအားသတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ဝက်(ဘ်)ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Myanmar SWM Motor Company Limited သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့်ပုံစံဖြင့် တင်ပြရမည်။

၃။ Myanmar SWM Motor Company Limited သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ (ဃ) အရ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီး ဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင်သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင် ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်နှင့်အညီ ဆောင်ရွက်ရမည်။

၄။ Myanmar SWM Motor Company Limited သည် အဆိုပြုလုပ်ငန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ်

ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅)စုံစီအား ကော်မရှင်သို့ ပေးပို့ရမည်။

(သောင်းထွန်း)

ဥက္ကဋ္ဌ

**Myanmar SWM Motor Company Limited**

**ဖြန့်ဝေခြင်း**

ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန

ပြည်ထဲရေးဝန်ကြီးဌာန

စီမံကိန်း၊ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာန

ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုကော်မတီ

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ် ၁ အကြီးစားစက်မှုလုပ်ငန်း

ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန